SCHOOL CITY CO., LTD. မှ တင်ပြသည့် အဆိုပြုချက်နှင့်စပ်လျဥ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

အခြေခံပညာရေးဝန်ဆောင်မှုလုပ်ငန်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှ တင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | အဆိုပြုလျှောက်ထားလွှာ တင်ပြလာခြင်း | ၂၂-၃-၂၀၁၉ | | |
| ၂။ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်း အဝေးသို့တင်ပြခြင်း | ၁၂/၂၀၁၉ (၂၅-၃-၂၀၁၉) | | |
| ၃။ | လုပ်ငန်းလိုအပ်ချက်အရ သက်ဆိုင်ရာ ဝန်ကြီးဌာနများသို့ သဘောထား တောင်းခံခြင်း<br>- ပညာရေးဝန်ကြီးဌာန<br>- ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | <br><br>၂၅-၄-၂၀၁၉<br>၂၅-၄-၂၀၁၉ | ၅-၆-၂၀၁၉ | |
| ၄။ | အဆိုပြုချက်အပေါ် ပြင်ဆင်တင်ပြ ရမည့်အချက်များ အကြောင်းကြားခြင်း | ၆-၆-၂၀၁၉ | | |
| ၅။ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၉/၂၀၁၉ (၁၄-၆-၂၀၁၉) | | |
| | စုစုပေါင်းကြာမြင့်ရက် | (၈၀) ရက် | | |

အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

ကုမ္ပဏီအမည်　　SCHOOL CITY CO., LTD.

လုပ်ငန်းအမျိုးအစား　အခြေခံပညာရေးဝန်ဆောင်မှုလုပ်ငန်း

PAT အကြိမ်/ ရက်စွဲ　၁၂/၂၀၁၉ (၂၅-၃-၂၀၁၉)

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု ပြီး(✓) မပြီး(X) | မှတ်ချက် |
|---|---|---|---|
| ၁။ | Accreditation Procedure တင်ပြရန် | ✓ | |
| ၂။ | အခန်းငှားရမ်းခြင်း စာချုပ်ခေါင်းစဉ်ပြင်ရန်နှင့် စာချုပ်များတွင် Arbitration Law 2016 ဟု ပြင်ဆင်ရန် | ✓ | |

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် School City Co.,Ltd. မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ အခြေခံပညာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန်<br><br><br><br><br><br>လုပ်ငန်းအမျိုးအစား | - School City Co.,Ltd.<br>- ဒေါ်အေးအေးခိုင်<br>- ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Times Creation Co.,Ltd. မြန်မာ ၉၀%<br>Crown Advanced Construction Co.,Ltd. မြန်မာ ၁၀%<br>- အခြေခံပညာရေးဝန်ဆောင်မှုလုပ်ငန်း |
| ၂။ | တည်နေရာ | - ၁၁ လွှာ၊ Times City Office Tower (2A) ၊ အမှတ် (၈) ရပ်ကွက်၊ ကျွန်းတောလမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | အဆောက်အဦပိုင်ရှင်<br>အဆောက်အဦအကျယ်အဝန်း<br>အဆောက်အဦငှားရမ်းခ<br>အဆောက်အဦ ငှားရမ်း/<br>အသုံးပြုခွင့်သက်တမ်း | - Crown Advanced Construction Co.,Ltd.<br>- ၂၀,၀၀၀ စတုရန်းပေ<br>- USD ၁၂၀,၀၀၀ ( ၁ စတုရန်းပေ USD ၆.၀၀ နှုန်း)<br>- ၁၀ နှစ် |
| ၄။ | ရင်းနှီးမြှုပ်နှံပြုလုပ်လိုသည့်<br>သက်တမ်း | - ကနဦး နှစ် ၅၀ (သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်) |
| ၅။ | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - ၁ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း | - USD ၅.၀၀၀ သန်း |

| | ထည့်ဝင်မည့်အမျိုးအစား | နိုင်ငံခြား US$(သန်း) | မြန်မာ US$ (သန်း) | စုစုပေါင်း US$ (သန်း) |
|---|---|---|---|---|
| | ငွေသား | ၃.၉၈၀ | - | ၃.၉၈၀ |
| | အဆောက်အဦငှားရမ်းခ | ၀.၁၂၀ | - | ၀.၁၂၀ |
| | အဆောက်အဦဆောက်လုပ်မှု | ၀.၄၀၀ | - | ၀.၄၀၀ |
| | ကုန်ကျစရိတ်(အတွင်းပိုင်း) | | | |
| | ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်း | - | ၀.၅၀၀ | ၀.၅၀၀ |
| | **စုစုပေါင်း** | ၄.၅၀၀ | ၀.၅၀၀ | ၅.၀၀၀ |



Salient

| | | |
|---|---|---|
| ၇။ | နှစ်စဉ်ဝန်ဆောင်မှု | |

| စဉ် | အမျိုးအမည် | ကျောင်းသား ဦးရေ | ကာလ (လ) | ဝန်ဆောင်ခနှုန်း (ကျပ်) |
|---|---|---|---|---|
| (က) | Grade 1 | ၁၂ | ၁၀ | ၄,၂၀၀,၀၀၀ |
| (ခ) | Grade 2 | ၇ | ၁၀ | ၄,၂၀၀,၀၀၀ |
| (ဂ) | Grade 3 | ၁၃ | ၁၀ | ၅,၄၀၀,၀၀၀ |
| (ဃ) | Grade 4 | ၈ | ၁၀ | ၅,၄၀၀,၀၀၀ |
| (င) | Grade 5 | ၇ | ၁၀ | ၅,၇၀၀,၀၀၀ |
| (စ) | Grade 6 | ၇ | ၁၀ | ၅,၇၀၀,၀၀၀ |
| (ဆ) | Grade 7 | ၈ | ၁၀ | ၆,၀၀၀,၀၀၀ |
| (ဇ) | Grade 8 | ၉ | ၁၀ | ၆,၀၀၀,၀၀၀ |
| (ဈ) | Grade 9 | ၉ | ၁၀ | ၆,၅၀၀,၀၀၀ |
| (ည) | Grade 10 | ၉ | ၁၀ | ၆,၅၀၀,၀၀၀ |
| (ဋ) | Grade 11 | ၆ | ၁၀ | ၇,၀၀၀,၀၀၀ |
| (ဌ) | Grade 12 | ၉ | ၁၀ | ၇,၀၀၀,၀၀၀ |

၈။ ဝန်ထမ်းခန့်ထားမှု

**စီမံခန့်ခွဲရေး**

| | ပြည်တွင်း | ပြည်ပ |
|---|---|---|
| **ဦးရေ** | ၁၃ ဦး | - |
| **အမြင့်ဆုံးလစာ** | ကျပ် ၁,၅၀၀,၀၀၀ | |
| **အနိမ့်ဆုံးလစာ** | ကျပ် ၁၅၀,၀၀၀ | |

**သင်ကြားရေး**

| | ပြည်တွင်း | ပြည်ပ |
|---|---|---|
| **ဦးရေ** | ၁၀ | ၃၀ |
| **အမြင့်ဆုံးလစာ** **အနိမ့်ဆုံးလစာ** | ၄၅၀,၀၀၀ | ၁,၀၀၀,၀၀၀ |

၉။ အခြားတင်ပြချက်

- ငွေကြေးအထောက်အထားအဖြစ် United Amara Bank Ltd. တွင် Crown Advanced Co.,Ltd. အမည်ဖြင့် ၁၄-၂-၂၀၁၉ ရက်စွဲတွင် USD ၉၂၁,၁၀၅.၄၂ ရှိကြောင်း တင်ပြထားပါသည်။
- ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ ဝန်ထမ်းများ၏ သက်သာချောင်ချိရေးအစီအစဉ်၊ Layout Plan၊ ဝန်ထမ်းများ၏ လစာဝင်ငွေပေါ်တွင် ဝင်ငွေခွန်ပေးဆောင်မည့် ဝန်ခံကတိ၊ ပုဂ္ဂလိကကျောင်း၏ ဆရာ၊ ဆရာမနှင့် စီမံခန့်ခွဲရေးဝန်ထမ်းများ လုံလောက်မှုရှိကြောင်း ဝန်ခံကတိ၊ မီးဘေးကာကွယ်ရေး အစီအစဉ်၊ CSR Plan၊ ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီနှင့် Crown Advanced Construction Co.,Ltd.တို့၏ အဆင့်မြင့်အဆောက်အအုံများ တည်ဆောက်ခြင်းဆိုင်ရာ လုပ်ငန်းအကျိုးတူ ပူးပေါင်း

| | | |
|---|---|---|
| | | ဆောင်ရွက်ခြင်း သဘောတူစာချုပ်၊ Crown Advanced Construction Co.,Ltd. နှင့် School City Co.,Ltd. တို့ ချုပ်ဆိုထားသော အဆောက်အဦငှားရမ်းခြင်းစာချုပ် (မူကြမ်း) Times Creation Co.,Ltd. နှင့် Crown Advanced Construction Co.,Ltd. တို့ ချုပ်ဆိုထားသော ဖက်စပ်သဘောတူ စာချုပ်တို့အား တင်ပြထားပါသည်။<br>- Emergency Response Procedures ၊ Primary Year Subject Guide ၊ Middle Year Subject Guide ၊ ပေးအပ်မည့် Certificate နမူနာများအား တင်ပြထားပါသည်။<br>- Nacel International School Systems နှင့် School City Co.,Ltd. တို့ ရေးထိုးထားသော MoU ကို တင်ပြထားပါသည်။<br>-School City Co.,Ltd. သည် Grade 1 မှ Grade 12 အထိ နိုင်ငံတကာသင်ရိုးဖြင့် သင်ကြားမည့်ကျောင်း ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၀။ | စိစစ်တင်ပြချက် | - ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။<br>- ကော်မရှင်ခွင့်ပြုမိန့် ရရှိပြီးပါက သက်ဆိုင်ရာ လုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်မည်ဖြစ်ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၅(အ)/ ခ-၀၃၅ / ၂၀၁၉(၃၁၆)
ရက်စွဲ၊ ၂၀၁၉ ခုနှစ် ဇွန် လ ၁၁ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် School City Co.,Ltd. မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အခြေခံပညာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် တရုတ်ပြည်သူ့သမ္မတနိုင်ငံ Times Creation Co.,Ltd.မှ ၉၀ % နှင့် မြန်မာနိုင်ငံ Crown Advanced Construction Co.,Ltd. မှ ၁၀ % ထည့်ဝင်ကာ School City Co.,Ltd. တည်ထောင်၍ ၁၁ လွှာ၊ Times City Office Tower (2A) ၊ အမှတ် (၈) ရပ်ကွက်၊ ကျွန်းတောလမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် အခြေခံပညာရေးဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ School City Co.,Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ ဝန်ထမ်းများ၏ သက်သာချောင်ချိရေးအစီအစဉ်၊ ဆောက်လုပ်မည့် အဆောက်အအုံ၏ Layout Plan၊ သင်ကြားမည့် ဆရာ/ဆရာမများ၏ ပညာအရည်အချင်း အထောက်အထားများ၊ သင်ကြားမည့် သင်ရိုးညွှန်းတမ်း၊ Nacel International School Systems နှင့် School City Co.,Ltd. တို့ရေးထိုးထားသည့် MoU၊ ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီနှင့် Crown Advanced Construction Co., Ltd. တို့၏ အဆင့်မြင့် အဆောက်အဦများ တည်ဆောက်ခြင်းဆိုင်ရာ လုပ်ငန်းအကျိုးတူပူးပေါင်း ဆောင်ရွက်ခြင်း သဘောတူ စာချုပ်၊ ဖက်စပ်စာချုပ်နှင့် အဆောက်အဦငှားရမ်းခြင်းစာချုပ် (မူကြမ်း) တို့ကို ပူးတွဲတင်ပြထားပါ သည်။

၃။ အဆောက်အဦငှားရမ်းသက်တမ်းကာလမှာ ၁၀ နှစ် ဖြစ်ပါသည်။ စုစုပေါင်း ၂၀,၀၀၀ စတုရန်းပေအားငှားရမ်း၍ နှစ်စဉ်အဆောက်အဦငှားရမ်းခမှာ USD ၁၂၀,၀၀၀ သန်း ဖြစ်ပါသည်။

၄။ အဆိုပြုလုပ်ငန်း၏ စီမံကိန်းကာလမှာ ကနဦး ၅၀ နှစ်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၅.၀၀၀ သန်း ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ တစ်ဖက်ပါအတိုင်းဖြစ်ပါသည်-

| ထည့်ဝင်သည့်အမျိုးအစား | နိုင်ငံခြား (၉၀%) | မြန်မာ (၁၀%) | US$ (သန်း) စုစုပေါင်း |
|---|---|---|---|
| ငွေသား | ၃.၉၈၀ | - | ၃.၉၈၀ |
| အဆောက်အဦငှားရမ်းခ | ၀.၁၂၀ | - | ၀.၁၂၀ |
| အဆောက်အဦဆောက်လုပ်မှု | ၀.၄၀၀ | - | ၀.၄၀၀ |
| ကုန်ကျစရိတ် (အတွင်းပိုင်း) | | | |
| ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်း | - | ၀.၅၀၀ | ၀.၅၀၀ |
| **စုစုပေါင်း** | **၄.၅၀၀** | ၀.၅၀၀ | **၅.၀၀၀** |

၆။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် သင်ကြားရေးပိုင်းတွင် ပြည်တွင်းဝန်ထမ်း ၁၀ ဦး နှင့် ပြည်ပဝန်ထမ်း ၃၀ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏ လစာမှာ ၄၅၀,၀၀၀ ကျပ် ဖြစ်ပြီး ပြည်ပဝန်ထမ်းတစ်ဦး၏ လစာမှာ ၁,၀၀၀,၀၀၀ ကျပ် ဖြစ်ပါသည်။ စီမံခန့်ခွဲရေးပိုင်းတွင် ပြည်တွင်းဝန်ထမ်း ၁၃ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ၁၅၀,၀၀၀ ကျပ်နှင့် အမြင့်ဆုံးလစာမှာ ၁,၅၀၀,၀၀၀ ကျပ် ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ဝန်ဆောင်မှုပေးမည့် သင်တန်းများနှင့် ဝန်ဆောင်ခနှုန်းထားများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ကျောင်းသားဦးရေ | ကာလ (လ) | ဝန်ဆောင်ခနှုန်း (ကျပ်) |
|---|---|---|---|---|
| (က) | Grade 1 | ၁၂ | ၁၀ | ၄,၂၀၀,၀၀၀ |
| (ခ) | Grade 2 | ၇ | ၁၀ | ၄,၂၀၀,၀၀၀ |
| (ဂ) | Grade 3 | ၁၃ | ၁၀ | ၅,၄၀၀,၀၀၀ |
| (ဃ) | Grade 4 | ၈ | ၁၀ | ၅,၄၀၀,၀၀၀ |
| (င) | Grade 5 | ၇ | ၁၀ | ၅,၇၀၀,၀၀၀ |
| (စ) | Grade 6 | ၇ | ၁၀ | ၅,၇၀၀,၀၀၀ |
| (ဆ) | Grade 7 | ၈ | ၁၀ | ၆,၀၀၀,၀၀၀ |
| (ဇ) | Grade 8 | ၉ | ၁၀ | ၆,၀၀၀,၀၀၀ |
| (ဈ) | Grade 9 | ၉ | ၁၀ | ၆,၅၀၀,၀၀၀ |
| (ည) | Grade 10 | ၉ | ၁၀ | ၆,၅၀၀,၀၀၀ |
| (ဋ) | Grade 11 | ၆ | ၁၀ | ၇,၀၀၀,၀၀၀ |
| (ဌ) | Grade 12 | ၉ | ၁၀ | ၇,၀၀၀,၀၀၀ |

၈။ အဆိုပြုလုပ်ငန်းနှင့် ပညာရေးဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့် ကိုက်ညီပါက ပုဂ္ဂလိကရင်းနှီးမြှုပ်နှံရန် ထောက်ခံပါကြောင်း၊ ပညာရေးဝန်ကြီးဌာနအနေဖြင့် မြန်မာ့ပညာရေးကဏ္ဍတွင် ပုဂ္ဂလိကရင်းနှီးမြှုပ်နှံမှုကို ကြိုဆိုပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့သို့ ၂၀၁၉ ခုနှစ် ဧပြီလ ၂၅ ရက်နေ့တွင် သဘောထားမှတ်ချက် တောင်းခံထားပါသည်။ (နောက်ဆက်တွဲ)

၉။ ငွေကြေးအထောက်အထားအဖြစ် United Amara Bank Ltd. ၌ ၁၄-၂-၂၀၁၉ ရက်နေ့တွင် Crown Advanced Co.,Ltd. အမည်ဖြင့် USD ၉၂၁,၁၀၅.၄၂ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။

(ဃ) ကော်မရှင်ခွင့်ပြုမိန့် ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်မည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် School City Co.,Ltd. မှ အခြေခံပညာရေးဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ နှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကျော်ဝင်း)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ



ရက်စွဲ 9.5.2019

(နောက်ဆက်တွဲ)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## ပညာရေးဝန်ကြီးဌာန

## ဝန်ကြီးရုံး

NPT-1940
7.5.19

စာအမှတ်၊ မူဝါဒ(သဘောထားမှတ်ချက်)၁၀၈၀/၂၀၁၉(၈၃၄၇)

ရက်စွဲ ၊ ၂၀၁၉ ခုနှစ်၊ မေလ ၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၅-၄-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက - ၅ (အ) / ၁ - ၀၃၅ / ၂၀၁၉ (၂၅၁)

(၂) ပညာရေးဝန်ကြီးဌာန၏ ၁၃-၇-၂၀၁၈ ရက်စွဲပါစာအမှတ်၊ စီမံကိန်း (MIC)/ ၂၀၁၈(၁၀၅၇၁)

(၃) ပညာရေးဝန်ကြီးဌာန၏ ၂၉-၁၀-၂၀၁၈ ရက်စွဲပါစာအမှတ်၊ စီမံကိန်း (သဘောထား)/၂၀၁၈(၁၇၀၅၇)

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် School City Co., Ltd. မှ ၁၁လွှာ၊ Times City Office Tower (2A)၊ အမှတ် (၈)ရပ်ကွက်၊ ကျွန်းတောလမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် ပညာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် မေတ္တာရပ်ခံလာပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လာရောက်လျှောက်ထားသည့် ကုမ္ပဏီများကို အရည်အသွေးအာမခံမှုရှိသော ပညာရေးဝန်ဆောင်မှုလုပ်ငန်းများအတွက် အောက်ပါအချက်များနှင့် ကိုက်ညီမှုရှိ-မရှိ စိစစ်ဆောင်ရွက်ပြီး ပညာရေးဝန်ကြီးဌာနတွင် မှတ်ပုံတင်နိုင်ရေး ဆက်လက် ဆောင်ရွက်ပေးသွားမည်ဖြစ်ပါကြောင်း ပညာရေးဝန်ကြီးဌာနမှ ရည်ညွှန်း(၂)ပါ စာဖြင့်လည်းကောင်း၊ အမျိုးသားပညာရေးမူဝါဒကော်မရှင်၏ သဘောထားမှတ်ချက်ကို ရည်ညွှန်း(၃)ပါစာဖြင့် လည်းကောင်း ပေးပို့ခဲ့ပြီးဖြစ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံသူ/ အဖွဲ့အစည်း၏ နိုင်ငံသားဖြစ်မှု (မြန်မာနိုင်ငံသား သို့မဟုတ် နိုင်ငံခြားသား)၊

(ခ) ရင်းနှီးမြှုပ်နှံမှုပုံစံ၊

(၁) နိုင်ငံသား၊

(၂) နိုင်ငံသားနှင့်နိုင်ငံခြားသားဖက်စပ်

(၃) နိုင်ငံခြားသား၊

(ဂ) ဖွင့်လှစ်မည့် ပုဂ္ဂလိကကျောင်း/သင်တန်းအမျိုးအစား

(ဃ) ပေးအပ်မည့် သင်တန်းဆင်းလက်မှတ်၊ အသိအမှတ်ပြုလက်မှတ်၊ အောင်လက်မှတ်၊ ဒီပလိုမာ၊ ဘွဲ့လက်မှတ်အမျိုးအစားများနှင့် အသိအမှတ်ပြုသည့်အဖွဲ့အစည်း၊

(င) ပေးအပ်မည့် သင်တန်းဆင်းလက်မှတ်၊ အသိအမှတ်ပြုလက်မှတ်၊ အောင်လက်မှတ်၊ ဒီပလိုမာ၊ ဘွဲ့လက်မှတ်များ၏ နမူနာပုံစံ၊

(စ) သင်ရိုးညွှန်းတမ်းနှင့် သင်ရိုးမာတိကာအမျိုးအစား (အမျိုးသားသင်ရိုးညွှန်းတမ်း သို့မဟုတ် အပြည်ပြည်ဆိုင်ရာသင်ရိုးညွှန်းတမ်း)၊

(ဆ) ပုဂ္ဂလိကကျောင်း၏ အုပ်ချုပ်ရေး၊ စီမံခန့်ခွဲရေး၊ သင်ကြားရေးဆိုင်ရာကိစ္စများကို တာဝန်ခံဆောင်ရွက်သောပုဂ္ဂိုလ် သို့မဟုတ် အဖွဲ့အစည်းဝင်များ၏ ပညာအရည်အချင်း အထောက်အထား၊

(ဇ) ပုဂ္ဂလိကကျောင်း၏ အတန်းများတွင် ဘာသာရပ်အလိုက် သင်ကြားမည့် ပုဂ္ဂလိက ကျောင်းဆရာများ၏ ဘွဲ့လက်မှတ်၊ အထောက်အထားများ၊ သင်ကြားရေးအတွေ့အကြုံ များနှင့်ကိုယ်ရေးအကျဉ်း၊

(ဈ) ကျောင်းဆရာ၏ နိုင်ငံသားဖြစ်မှု ( မြန်မာနိုင်ငံသား သို့မဟုတ် နိုင်ငံခြားသား)၊

(ည) ပုဂ္ဂလိကကျောင်း၏ ဆရာ၊ ဆရာမနှင့် စီမံခန့်ခွဲရေးဝန်ထမ်း လုံလောက်မှု ရှိကြောင်း ဝန်ခံချက်၊

(ဋ) ပုဂ္ဂလိကကျောင်းအမျိုးအစားအလိုက် ထားရှိရမည့် ကျောင်းပရိဝုဏ်၊ အဆောက်အအုံ လုံလောက်မှု ရှိ/မရှိနှင့် အသုံးပြုခွင့်ရှိသော အထောက်အထား၊

(ဋ) ပုဂ္ဂလိကကျောင်း ဖွင့်လှစ်ခြင်းနှင့်ပတ်သက်၍ ကန့်ကွက်ရန် မရှိကြောင်း၊ ပုဂ္ဂလိကကျောင်းတည်ထောင်ဖွင့်လှစ်မည့် ပရိဝုဏ်၏ ဘေးပတ်ဝန်းကျင်တွင် အနီးစပ်ဆုံးနေထိုင်သူအနည်းဆုံး(၁၀)ဦး သဘောတူလက်မှတ်ရေးထိုးထားသည့် အထောက်အထားနှင့် ယင်းအထောက်အထား မှန်ကန်ကြောင်း သက်ဆိုင်ရာ ရပ်ကွက်အုပ်ချုပ်ရေးမှူး၏ ထောက်ခံချက်၊

(ဌ) ပညာရပ်ဆိုင်ရာဝန်းကျင်ကောင်းရှိ/မရှိ

(၁) ပုဂ္ဂလိကကျောင်းဝင်း၊ ပတ်ဝန်းကျင်၊ စာသင်ခန်းများ၊ လက်တွေ့ခန်းများသည် ကျန်းမာရေးနှင့်ညီညွတ်၍ သန့်ရှင်းစင်ကြယ်စေရန် အစီအစဉ်ထားရှိ ခြင်း၊

(၂) အရေးပေါ်ကျန်းမာရေးစောင့်ရှောက်မှု အစီအစဉ်ထားရှိခြင်း၊

(၃) ကျောင်းလုံခြုံရေးနှင့် မီးဘေးကာကွယ်ရေးအစီအစဉ်ထားရှိခြင်း၊

(ဎ) ဖွင့်လှစ်မည့် ပုဂ္ဂလိကကျောင်းအမျိုးအစားအလိုက် သက်ဆိုင်ရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်၊

(ဏ) အမျိုးသားပညာရေးဥပဒေ၊ တည်ဆဲပညာရေးဆိုင်ရာ ဥပဒေများကို လိုက်နာရန်နှင့် နောင်ထွက်ပေါ်လာမည့် ပညာရေးဥပဒေများနှင့်အညီ လိုက်နာဆောင်ရွက်သွားရန် ကတိပြုဝန်ခံချက်၊

(တ) ပုဂ္ဂလိကကျောင်း၏ ပရိဝုဏ်အတွင်း အရက်သေစာနှင့် မူးယစ်ဆေးဝါး သုံးစွဲခြင်း မရှိစေရေး ကတိဝန်ခံချက်၊

(ထ) ဆရာ၊ ဆရာမနှင့် ကျောင်းသား၊ ကျောင်းသူများ၏ ကာယိန္ဒြေ ထိခိုက်မှု မရှိစေရေး ကတိဝန်ခံချက်၊

၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လာရောက်လျှောက်ထားသည့် ကုမ္ပဏီများကို အရည်အသွေးအာမခံမှုရှိသော ပညာရေးဝန်ဆောင်မှုလုပ်ငန်းများအတွက် အထက်ဖော်ပြပါ အပိုဒ်(၂) (က)မှ (ထ)ရှိ အချက်အလက်များဖြင့် မဖြစ်မနေ စိစစ်ရန်နှင့် School City Co., Ltd. ၏ ပညာရေးဝန်ဆောင်မှုလုပ်ငန်းသည် နိုင်ငံတကာအသိအမှတ်ပြု ခိုင်မာမှု ရှိ-မရှိ စိစစ်ရန်လည်း လိုအပ်ပါသည်။

၄။ ပညာရေးဝန်ကြီးဌာနသို့ ဆက်သွယ်ဆောင်ရွက်လိုပါက အောက်ဖော်ပြပါ ပုဂ္ဂိုလ်အား ဆက်သွယ်ဆောင်ရွက်နိုင်ပါကြောင်း ဖော်ပြအပ်ပါသည်-

ဒေါက်တာကျော်နိုင်

ဒုတိယအမြဲတမ်းအတွင်းဝန်

ပညာရေးဝန်ကြီးဌာန

ဖုန်း- ၀၆၇ ၃၄၀၇၁၁၆

အီးမေးလ် - drkyawnaing2009@gmail.com

၅။ သို့ဖြစ်ပါ၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် School City Co., Ltd. မှ ၁၁လွှာ၊ Times City Office Tower (2A)၊ အမှတ် (၈)ရပ်ကွက်၊ ကျွန်းတောလမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် ပညာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ ပညာရေးဝန်ကြီးဌာနအနေဖြင့် မြန်မာ့ပညာရေးကဏ္ဍတွင် ပုဂ္ဂလိကရင်းနှီးမြှုပ်နှံမှုကို ကြိုဆိုပါကြောင်း၊ ပညာရေးဝန်ဆောင်မှု ဆိုင်ရာလုပ်ငန်းများအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း စည်းကမ်း၊ လုပ်ထုံးလုပ်နည်း များနှင့်ကိုက်ညီပါက ပုဂ္ဂလိကရင်းနှီးမြှုပ်နှံမှုကို ထောက်ခံပါကြောင်းနှင့် ပညာရေးလုပ်ငန်း ခွင့်ပြုချက်ရရှိရန် အချိန်ယူစိစစ်ဆောင်ရွက်ရသည့်အတွက် ၂၀၁၉ ခုနှစ်၊ မေလ(၁၃)ရက် ပြန်ကြားရန် ခက်ခဲပါကြောင်း (အမျိုးသားပညာရေးဥပဒေ ပုဒ်မ - ၂ (စ) အရ အမျိုးသားပညာရေးမူဝါဒကော်မရှင်၊ အမျိုးသားအဆင့်အတန်းနှင့်အရည်အသွေး အာမခံမှုအကဲဖြတ်ရေးကော်မတီနှင့် ပါမောက္ခချုပ်များကော်မတီတို့၏ သဘောထားရယူရန် လိုကြောင်း) ပြန်ကြားအပ်ပါသည်။

Kyaw Naing
2-5-19

ဒုတိယဝန်ကြီး (ကိုယ်စား)

( ဒေါက်တာကျော်နိုင်၊ ဒုတိယအမြဲတမ်းအတွင်းဝန် )

မိတ္တူကို -

ရုံးလက်ခံ

မျှောစာတွဲ

memo (National School)